၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၁၉. ၆. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၃/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၂)အရ Myanmar Yangon Richang Apparel Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Yangon Richang Apparel Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

နောက်ဆက်တွဲ - ၁

M-4765
1916

စာအမှတ် ၂ / ၂၂၀ (ခ) (၆) / (၄၃၂၈ / ၂၀၁၄)

ရက်စွဲ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Myanmar Yangon Richang Apparel Co., Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်တင်ပြခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၆-၂၀၁၄ ရက်စွဲပါစာအမှတ်- ရက - ၁ / န - ၁၀၄၄ / ၂၀၁၄ (၅၆၁၀)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Wuxi Richang Apparel Co., Ltd မှ အစုရှယ်ယာ ၉၉ စုနှင့် တရုတ်နိုင်ငံသား Mr. Wang Rui မှအစုရှယ်ယာ၁စု ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Yangon Richang Apparel Co., Ltd တည်ထောင်ပြီး မြေကွက်အမှတ် (၂၃၀)၊ မြေတိုင်းအမှတ် (၂၅)၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေ (၁.၇၅) ဧက အနက် (၃၃၁၆.၈၀၆) စတုရန်းမီတာ (၀.၈၁၉၆) ဧကေ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံခွင့်လျှောက်ထားခြင်း၊ ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး(၁၀)နှစ်ဖြင့် စတင်ဆောင်ရွက်မည် ဖြစ်ကြောင်း၊ မြေငှားစာချုပ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများ၊ ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များ၊ ထုတ်လုပ်မည့်ကုန်ပစ္စည်း အမျိုးအစား၊ အထည်ချုပ်စက်ရုံပုံစံ၊ အသုံးပြုမည့် စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းစာရင်း၊ စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ၊ မီးဘေးကာကွယ်ရေး အစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ၊ လုပ်ငန်းလည်ပတ်ခြင်းမှ

ရရှိမည့် အသားတင်အမြတ်ငွေမှ (၂%) ကို (Corporate Social Responsibility-CSR) ရန်ပုံငွေ အဖြစ် သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းတွင်အသုံးပြုမည့် Fabric စသည့် ကုန်ကြမ်းပိတ်စ/ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု ဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ပိတ်ဖြတ်စများ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင်လေထုနှင့် မြေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ခြင်း၊ ပိတ်စဖြတ်ခြင်း၊ ပုံစံညှပ်ခြင်း၊ အထည်ချုပ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Wuxi Richang Apparel Co., Ltd မှ အစုရှယ်ယာ ၉၉ စုနှင့် တရုတ်နိုင်ငံသား Mr. Wang Rui မှ အစုရှယ်ယာ ၁ စု ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Yangon Richang Apparel Co., Ltd တည်ထောင်ပြီး မြေကွက်အမှတ် (၂၃၀)၊ မြေတိုင်းအမှတ် (၂၅)၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၁.၇၅) ဧကအနက် (၃၃၁၆.၈၀၆) စတုရန်းမီတာ (၀.၈၁၉၆) ဧက၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအချက်များကို ထည့်သွင်းလိုက်နာဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန်၊

(ခ) စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက်

(Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင် ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( မျိုး ညွန့် ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

M-4818
2616

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၄-၂၀၁၅(၁၀၅၄)

ရက် စွဲ၊ ၂၀၁၄ ခုနှစ် ဇွန်လ ၂၅ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

**ရည် ညွှန်း ချက်။** မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆.၆.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၁/န-၁၀၄၄/၂၀၁၄(၅၇၀၉)

၁။ Myanmar Yangon Richang Apparel Co.,Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေကွက်အမှတ်(၂၃၀)တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) CMP လုပ်ခနှုန်းထားတင်ပြထားချက် ဆီလျော်မှုရှိပါသည်။

(စ) ကုန်ထုတ်လုပ်မှုလျာထားချက်နှင့် စက်အင်အား/လူအင်အား တင်ပြထားချက် ဆီလျော်မှုရှိပါသည်။

(ဆ) ကုန်ကြမ်းနှင့်ပုံးတွဲသုံးပစ္စည်းတင်ပြထားချက်တွင် Pants အတွက် ကုန်ကြမ်းသုံးစွဲမှုနှုန်းတွင် Lambs Wool ပါဝင်နေခြင်းအား ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဇ) နှစ်အလိုက် ကုန်ထုတ်လုပ်မှုတင်ပြချက်တွင် ပထမနှစ်မှ ပဉ္စမနှစ်အထိ တဖြေးဖြေးတိုးမြှင့်တင်ပြထားပြီး၊ ဆဋ္ဌမနှစ်မှ (၁၀)နှစ်အထိ လျော့နည်းတင်ပြထားသဖြင့် ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဈ) နှစ်အလိုက် ကုန်ကြမ်းနှင့်ပုံးတွဲသုံးပစ္စည်းလိုအပ်ချက်အား နှစ်အလိုက် ကုန်ထုတ်လုပ်မှုနှင့် ကုန်ကြမ်းသုံးစွဲမှုနှုန်းအပေါ် မူတည်၍ ဆီလျော်မှုရှိသော လိုအပ်ချက်ကို ပြင်ဆင်ရန်နှင့် Pants အတွက် Fabric နှင့် Corduroy လိုအပ်ချက်များ ပိုမိုများပြားနေသဖြင့် ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Myanmar Yangon Richang Apparel Co.,Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၅.၆.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အထည်အလိပ်လုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ

M-4784
24/6

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၄(၅၅၀၂)
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇွန် လ ၁၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Yangon Richang Apparel Co., Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၆-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၁/န - ၁၀၄၄/၂၀၁၄(၅၇၁၁)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ်(၂၅)၊ မြေကွက် အမှတ် (၂၃၀) တွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်း ထားသော Wuxi Richang Apparel Co.,Ltd က ၉၉%နှင့် တရုတ်နိုင်ငံသား Mr. Wang Rui က ၁%ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Yangon Richang Apparel Co.,Ltd တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တင်ပြမှုအပေါ် CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ ၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်သည် အထည်ချုပ် စက်ရုံအမှတ် (၁၇) စက်ရုံမှူး ဒေါ်လှသီတာနှင့်အတူ ၁၃-၆-၂၀၁၄ ရက်နေ့ ၁၂:၃၀ နာရီတွင် တာဝန်ခံများကို တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ Myanmar Yangon Richang Apparel Co., Ltd ၏အဆိုပြုချက်အပေါ်အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

**(က) C.M.P ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| ချုပ်ထည် | တစ်ထည် လိုအပ်ချက်နှုန်းထား | ကိုက်ညီမှုရှိ/မရှိ |
|---|---|---|
| 1.Jacket | 9.45 yds/ pc | ကိုက်ညီမှုမရှိပါ။ |
| 2. Pant | 4.35 yds/ pc | ။ |

အဆိုပြုချက်ပါ တစ်နှစ်လုံးစာ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက် နှုန်း ၊ တားမြစ်သတ်မှတ်စံနှုန်းများ ကိုက်ညီမှု မရှိကြောင်းတွေ့ရှိရပြီး အင်္ကျီချုပ်ရာတွင် အဓိက Fabric အပြင် (Lining, Lambwool, Fake Hair, Clothing Sticking, Corduroy) များအပါအဝင်ဖြစ်၍ များနေပါသည် -

| ချုပ်ထည် | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်ထည် လိုအပ်ချက် နှုန်းထား | လိုအပ်မည့် ကုန်ကြမ်း အရေအတွက် |
|---|---|---|---|
| 1.Jacket | 120000 Pcs | 6.5 yds/ pc | 780000 yds |
| 2. Pant | 200000 Pcs | 3 yds/ pc | 600000 yds |

အဆိုပြုချက်တွင် ပစ္စည်းအားလုံး ထုတ်လုပ်မည် ဆိုပါက စုစုပေါင်းကုန်ကြမ်း 1380000 yds ကုန်ကျမည်ဖြစ်၍ အဆိုပြုချက်တွင် Fabric မျိုးစုံစုစုပေါင်း 2004000 yds ဖော်ပြထား၍ ကုန်ကြမ်း 624000 yds များနေ၍ ပြင်ဆင်တင်ပြ သင့်ပါသည်။

(ခ) **C.M.Pလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ**

အဆိုပြုချက်ပါ C.M.P လက်ခ နှုန်းထားများကို လက်ရှိရရှိသည့် လက်ခနှုန်းထားများနှင့် နှိုင်းယှဉ်ရာတွင် Jacket တွင် များစွာရရှိကြောင်း တွေ့ရှိရပါသည် -

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း၏ လက်ရှိ CMPလက်ခနှုန်းထား |
|---|---|---|
| 1.Jacket | 60 US$/Dz | 20-25 US$/Dz |
| 2. Pant | 12 US$/Dz | 12-18 US$/Dz |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ Jacket နှင့် Pant တို့ဖြစ်ပြီး အဓိက စက်အနေနှင့် ပြည်တွင်းမှ တင်သွင်းသော Single Needle M/C (၂၀၀)လုံး ၊ Double Needle M/C(၈)လုံးဖြင့်Skilled Workers (၃၀၀)ဦး၊ Unskilled Workers (၁၅၀)ဦး၊ QC, Finishing(၇၀)ဦး ရှိနေ၍ လူပိုများနေပါသည် ။Baratacking M/C နည်းနေပြီး Interlock ,Overlock M/C များ လိုနေပါသည်။ အဓိက စက်အရေအတွက်ဖြင့် အခြေခံ၍ တွက်ချက်မည်ဆိုပါက -

| ချုပ်ထည် | ကုန်ထုတ် စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| 1.Jacket | (၁) လိုင်း | ၆၂၄ ထည်/၁၀နာရီ | ၁၉၃၄၄၀ ထည် |
| 2. Pant | (၁) လိုင်း | ၁၀၄၀ ထည်/၁၀နာရီ | ၃၂၂၄၀၀ထည် |

အဆိုပြုချက်ပါ စက်အင်အား၊ လူအင်အား မညီသော်လည်း စက်ကို အခြေခံ၍ တွက်ချက်ပါ ထုတ်လုပ်မှု ပြည့်မီနိုင်ပါသည်။ သို့ရာတွင် စက်များ ပြည့်စုံစွာ တင်ပြထားခြင်း မရှိကြောင်း တွေ့ရှိရ၍ ပြင်ဆင်တင်ပြသင့်ပါသည်။

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ |
|---|---|---|
| 1.Jacket | 120000 Pcs | 193440-195000 Pcs |
| 2. Pant | 200000 Pcs | 322400-325000 Pcs |

၃။ သို့ဖြစ်၍ Myanmar Yangon Richang Apparel Co., Ltd အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုပေးသင့်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်ရာ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်စေသင့်ပါကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
Myanmar Yangon Richang Apparel Co., Ltd
ရုံးလက်ခံ
မျှောစာတွဲ

| |
|---|
| ကြေးနန်းလိပ်စာ - **"စိစစ်တိုး"** |
| တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅ |
| - ၄၀၆၀၆၆ |
| - ၄၀၆၀၆၇ |
| - ၄၀၆၀၆၈ |
| - ၄၀၆၀၆၉ |
| - ၄၀၆၀၇၀ |
| - ၄၀၆၀၇၁ |

M-4678
6/6/12

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂ ၊ နေပြည်တော်

စာအမှတ်၊စစတ- ဦး/၇၂၁(၁၄၀၅/၂၀၁၄)
ရက်စွဲ၊ ၂၀၁၄ခုနှစ် ဇွန်လ ၆ ရက်

**အမှာစာ**

အကြောင်းအရာ။ **Myanmar Yangon Richang Apparel Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၄-၆-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၁/န-၁၀၄၄/၂၀၁၄(၅၁၈၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Wuxi Richang Apparel Co., Ltd. မှ အစုရှယ်ယာ ၉၉ စု နှင့် တရုတ်နိုင်ငံသား Mr. Wang Rui မှ အစုရှယ်ယာ ၁ စု ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Yangon Richang Apparel Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ် (၂၃၀)၊ မြေတိုင်းရပ်ကွက် အမှတ်(၂၅)၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁.၇၅ ဧကအနက် ၃၃၁၆.၈၀၆ စတုရန်းမီတာ (၀.၈၁၉၆ ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေးတွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ငွေသားစီးဆင်းမှုစာရင်း (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၂၃% ရရှိပြီး ကုမ္ပဏီမှ တွက်ချက်တင်ပြထားသည်နှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ခ) အရင်းအနှီး၏ အခွင့်အလမ်းစရိတ် ၁၂% ဖြင့် တွက်ချက်ပါက အကျိုးအမြတ်နှင့် ကုန်ကျစရိတ်အချိုးမှာ ၁.၀၄ ရရှိပြီး အသားတင်လက်ငင်းတန်ဖိုးမှာ အမေရိကန်ဒေါ်လာ ၀.၃၃၂ သန်း ရရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဂ) တွက်ချက်ရရှိသော အရင်းကြေကာလမှာ ၄ နှစ် နှင့် ၃ လ ဖြစ်ပြီး အဆိုပြုလွှာပါ အရင်းကြေကာလနှင့် ကိုက်ညီမှုသည်ကို တွေ့ရှိရပါကြောင်း၊

(ဃ) Myanmar Yangon Richang Apparel Co., Ltd. သည် ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် စုစုပေါင်း အမေရိကန်ဒေါ်လာ ၀.၅၀ သန်းဖြင့် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊

(င) **လူမှုရေးအကျိုးသက်ရောက်မှုအနေဖြင့်** နိုင်ငံအတွင်းဝန်ထမ်း ၅၅၀ ဦး အလုပ်အကိုင် အခွင့်အလမ်းများ ရရှိနိုင်မည်ဖြစ်ပါကြောင်းနှင့် ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟု ဖော်ပြပါရှိပါကြောင်း၊

(စ) **ပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှုများ**အတွက် မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်များနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟု ဖော်ပြပါရှိပါကြောင်းနှင့် အဆိုပါအစီအမံများအား လေးစားလိုက်နာရန် လိုအပ်ပါကြောင်း၊

(ဆ) အဆိုပါရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ခြင်းဖြင့် နိုင်ငံသားများ၏ အလုပ်အကိုင် အခွင့်အလမ်းများ တိုးတက်မှုတစ်ဆင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်လာနိုင်စေခြင်း၊ ခေတ်မီနည်းပညာရပ်များ တိုးတက်လာခြင်း၊ နိုင်ငံခြားဝင်ငွေ တိုးမြှင့် ရရှိစေနိုင်ခြင်းတို့ကို တွေ့ရှိရပါကြောင်း၊ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှလည်း ကွပ်ကဲရန် လိုအပ်ပါကြောင်းနှင့် မြန်မာနိုင်ငံမှ ပြဋ္ဌာန်းထားသည့် စည်းမျဉ်းစည်းကမ်းများ၊ ပြည်တွင်းဥပဒေ လုပ်ထုံးလုပ်နည်းများအား လေးစားလိုက်နာရန် လိုအပ်ပါကြောင်း။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ဒေါက်တာကျော်ဆန်း၊ညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**
မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Suntime JCK Co., Ltd. ၊ World Jin Garment Co.,Ltd. နှင့် Myanmar Yangon Richang Apparel Co., Ltd. တို့မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | Suntime JCK Co., Ltd.<br>- Mr. Bao Jianxin (တရုတ်) | - World Jin Garment Co., Ltd.<br>- Mrs.Jung Euisook (ကိုရီးယား) | Myanmar Yangon Richang Apparel Co., Ltd.<br>- Mr. Wang Rui (တရုတ်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Shanghai International Co., Ltd. (တရုတ်နိုင်ငံတွင်ဖွဲ့စည်း) ၅၀ %<br>Jiangyin Xinfeng Clothes Manufacturing Co.,Ltd. (တရုတ်နိုင်ငံတွင်ဖွဲ့စည်း) ၅၀ % | - ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Mrs. Jung Euisook (ကိုရီးယား) ၉၉ %<br>- Mr. Kim Hyung Woo (ကိုရီးယား) ၁ % | -ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Wuxi Richang Apparel Co.,Ltd. (တရုတ်နိုင်ငံတွင်ဖွဲ့စည်း) အစုရှယ်ယာ ၉၉ စု<br>- Mr. Wang Rui (တရုတ်နိုင်ငံသား) အစုရှယ်ယာ ၁ စု |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် (၈၈,၉၀)၊ မြေတိုင်းရပ်ကွက် အမှတ်(၃၉)၊ သံချပ်ဝန်ဦးညွန့်လမ်း၊ရွှေပြည်သာစက်မှုဇုန်(၂)၊ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | - မြေကွက်အမှတ် ၁၃၆၊ မြေတိုင်းအမှတ်(၅၁)၊ ပတ္တမြားလမ်း၊ သာဓုကန်စက်မှုဇုန်(၂)၊ရွှေပြည်သာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး | - မြေကွက်အမှတ် (၂၃၀)၊ မြေတိုင်းရပ်ကွက် အမှတ်(၂၅)၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - မြေ ၁၉၄၀၄.၆၉ စတုရန်းမီတာ (၄.၇၉၅ ဧက) | - မြေ ၁၁,၇၀၃.၅၂ စတုရန်းမီတာ (၂.၈၉၂ ဧက) | - စုစုပေါင်းမြေ(၁.၇၅၀)ဧကအနက်မှ မြေ ၃၃၁၆.၈၀၆ စတုရန်းမီတာ (၀.၈၁၉၆ ဧက)<br>- မြေ(၀.၃၅၉၆) ဧက<br>- အဆောက်အဦ(၀.၄၆၀)ဧက |
| | မြေပိုင်ရှင် | - ဦးတင်အေး(ခ)ချမ်ကြုံ | - ဦးမြင့်သိန်း(ခ)ဘဲလူးဆွာမိ | - ဒေါ်နီတာဒေဗီ(ခ)ဒေါ်ချယ်ရီ |
| | မြေငှားသက်တမ်း | - ကနဦး ၃၀ နှစ်နှင့် နှစ်ဦးသဘောတူညီချက်အရ ၅ နှစ် (၁)ကြိမ် သက်တမ်းတိုး | - ကနဦး ၃၀ နှစ်နှင့် နှစ်ဦးသဘောတူညီချက်အရ ၅ နှစ် (၁)ကြိမ် သက်တမ်းတိုး | - နှစ် ၁၀ နှစ်နှင့် ၅ နှစ်(၂)ကြိမ်သက်တမ်းတိုးမည်။ |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ (၁၁၆,၄၂၈.၁၄) ဖြစ်ပါသည်။<br>- (၁)နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ(၆.၀)နှုန်း | - နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ (၇၀,၂၂၀.၁၁) ဖြစ်ပါသည်။<br>- (၁)နှစ် တစ်စတုရန်း မီတာလျှင်အမေရိကန်ဒေါ်လာ (၆.၀) နှုန်း | - နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ (၁၉,၃၇၆) ဖြစ်ပါသည်။<br>- (၁)နှစ် တစ်စတုရန်း မီတာလျှင်အမေရိကန်ဒေါ်လာ (၅) နှုန်း - အဆောက်အဦ တစ်စတုရန်း မီတာလျှင်(၁)နှစ် အမေရိကန်ဒေါ်လာ(၆.၅)နှုန်း |
| | အဆောက်အဦ | - (၉၀မီတာx၅၄မီတာ တစ်ထပ်အဆောက်အဦတစ်လုံး)<br>(၆၀မီတာx၄၈မီတာ တစ်ထပ်အဆောက်အဦတစ်လုံး) | - (၁၅၀ပေx၂၈၀ပေ တစ်ထပ်အဆောက်အဦတစ်လုံး) | |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ်နှင့် ၅ နှစ်တစ်ကြိမ်သက်တမ်းတိုးမည်။ | - ၃၀နှစ် | - ၁၀ နှစ်နှင့် ၅ နှစ်(၂)ကြိမ်သက်တမ်းတိုးမည်။ |
| | တည်ဆောက်ရေးကာလ | - ၁၈ လ | - ၁၈ လ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၂.၀၁၇ သန်း | - US$ ၁.၇၇၃ သန်း | - US$ ၀.၅၀၀ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | - US $ (သန်း) | - US$ (သန်း) | - US$ (သန်း) |
| | ငွေသား | ၀.၁၅၀ | ၀.၁၅၀ | ၀.၁၅၀ |
| | စက်နှင့် စက်ပစ္စည်းကိရိယာ(ပြည်ပဝယ်) | ၁.၆၁၈ | ၁.၄၅၇ | ၀.၀၁၃ |
| | ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၀၁၂ | ၀.၀၁၀ | ၀.၀၆၅ |
| | အဆောက်အဦပြင်ဆင်စရိတ် | ၀.၀၅၀ | ၀.၀၂၅ | |
| | မော်တော်ယာဉ်(ပြည်ပဝယ်) | | ၀.၀၅၀ | ၀.၀၆၇ |
| | စက်နှင့် စက်ပစ္စည်းကိရိယာ(ပြည်တွင်း) | ၀.၁၄၇ | ၀.၀၆၀ | ၀.၂၀၅ |
| | စုစုပေါင်း | ၂.၀၁၇ | ၁.၇၇၃ | ၀.၅၀၀ |

| | | | | |
|---|---|---|---|---|
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - **၁၇၁၃ ဦး** | - **၁၂၂၈ ဦး** | - **၅၆၂ ဦး** |
| | ပြည်တွင်း | - ၁၇၀၀ ဦး (ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၉၂,၀၀၀၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး ၏ လစာမှာ ကျပ် ၄၅၀,၀၀၀) | - ၁၂၂၀ ဦး (ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာ မှာ US$ ၁၀၀၊ အမြင့်ဆုံးလစာမှာ US$ ၅၀၀) | - ၅၅၇ ဦး (ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | ၁၃ ဦး (ပြည်ပမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၈၀၀ ၊ အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀) | - ၈ ဦး (ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၈၀၀၊ အမြင့်ဆုံးလစာမှာ US$၁,၅၀၀) | - ၅ ဦး (ပြည်ပ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ US$၁,၅၀၀၊ အမြင့်ဆုံးလစာမှာ US$၁,၈၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပ တင်ပို့ခြင်း | - ၁၀၀ % ပြည်ပ တင်ပို့ခြင်း | - ၁၀၀ % ပြည်ပသို့ တင်ပို့ခြင်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - US $ ၅.၇၅၄၀ သန်း | - US$ ၄.၄၃၅၀ သန်း | - US$ ၁.၉၄၁ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - US $ ၄.၂၃၆၇ သန်း | - US$ ၃.၃၇၃ သန်း | - US$ ၁.၇၉၇ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US $ ၁.၅၁၇၃ သန်း | - US$ ၁.၀၆၂၀သန်း | - US$ ၀.၁၄၄ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | | | |
| | ဝင်ငွေခွန် | - US $ ၀.၅၀၅၈ သန်း (အမေရိကန် ၁ ဒေါ်လာ =၉၅၀) | - US$ ၀.၃၅၄၀ သန်း (အမေရိကန် ၁ ဒေါ်လာ = ၉၅၀) | US$ ၀.၀၄၈သန်း(အမေရိကန်ဒေါ်လာ ၁ ဒေါ်လာ = ၉၅၀ ကျပ်) |
| | အရင်းကြေကာလ | - ၃ နှစ် ၆ လ | - ၄ နှစ် ၁ လ | - ၄ နှစ် ၃ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၃၈.၀၇ % | - ၂၇.၂၀ % | - ၂၃.၆၇ % |
| ၁၀။ | ပုံမှန်နှစ်(၆နှစ်မြောက်)၏ထုတ်လုပ်မှုအရေအတွက်နှင့်ဈေးနှုန်းများ | **အမျိုးအစား** / **ပြည်ပပို့ (ပျမ်းမျှ) Doz(000)** / **CMPလက်ခ (ပျမ်းမျှ) US$ /Doz**<br>All Kinds of Jacket, Pants, Coat, Shirt, Vest, Dress, Skirt, / ၄၄ / ၁၅ | **အမျိုးအစား** / **ပြည်ပပို့ (ပျမ်းမျှ) Doz(000)** / **CMPလက်ခ (ပျမ်းမျှ) US$ /Doz**<br>All Kinds of Knit Blouse, Knit Shirt, Knit Dress, Woven Vest, Woven Blouse, Woven Shirt, Woven Dress, Woven Vest / ၂၇ / ၁၈ | **အမျိုးအစား** / **ပြည်ပပို့ (ပျမ်းမျှ) Pcs(000)** / **CMP လက်ခ (ပျမ်းမျှ) US$/ Pcs**<br>All Kinds of Jacket, Pants / ၁၂၅ / ၃.၉ |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၅၃၈,၀၀၀ Unit | - ၃၉၅,၀၀၀ Unit | - ၃၁၅ KVA |
| ၁၂။ | ငွေကြေးအထောက်အထား | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Jingyin Xinfeng Clothes-Manufacturing Co.,Ltd. သည် ၅-၆-၂၀၁၄ နေ့တွင် တရုတ်နိုင်ငံရှိ China Merchants Bank ၌ US$(၆၈၀၉၁၉.၀၃၅)နှင့်ညီမျှသောတရုတ်ယွမ် ၄၁၂၆၃၆၉.၃၅ ရှိကြောင်း နှင့် Shanghai International Co., Ltd. သည် ၉-၄-၂၀၁၄ နေ့တွင် တရုတ်နိုင်ငံရှိ Bank of Shanghai ၌ US$ (၁၆၅၀၁၆.၅၀၂) နှင့်ညီမျှသော တရုတ်ယွမ် ၁,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။ | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Mrs. Jung Euisook သည် ၁၃-၅-၂၀၁၄ နေ့တွင် ကိုရီးယားနိုင်ငံရှိ KEB Bank ၌ US$ US$ ၁၀၉,၅၀၅.၃၇ ရှိကြောင်း နှင့် Mr. Lee Seok Manသည် ၁၄-၅-၂၀၁၄ နေ့တွင် ကိုရီးယားနိုင်ငံရှိ KEB Bank ၌ US$ ၁၀၇,၅၃၇.၃၉ ရှိကြောင်း တင်ပြထားပါသည်။ | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Wuxi Richang Apparel Co., Ltd. သည် ၂၄-၂-၂၀၁၄ နေ့တွင် တရုတ်နိုင်ငံရှိ Bank of China ၌ US$ ၈၁၆,၉၀၆.၈၆ ရှိကြောင်း တင်ပြထားပါသည်။ |

| | | | | |
|---|---|---|---|---|
| ၁၃။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (အကြိမ်/ရက်စွဲ) | - (၂၅/၂၀၁၄)၁၈-၆-၂၀၁၄ | - (၂၅/၂၀၁၄)၁၈-၆-၂၀၁၄ | - (၂၅/၂၀၁၄)၁၈-၆-၂၀၁၄ |
| ၁၄။ | ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး (အကြိမ်/ရက်စွဲ) | - (၁၇/၂၀၁၄)၂၈-၈-၂၀၁၄ | - (၁၇/၂၀၁၄)၂၈-၈-၂၀၁၄ | - (၁၄/၂၀၁၄)၁၇-၇-၂၀၁၄ |
| ၁၅။ | Cost & Benefit | - ၁း၅ | - ၁း၆ | - ၁း၇ |
| ၁၆။ | စုစုပေါင်းကြာမြင့်ရက် | - ၈၂ ရက် | - ၈၇ ရက် | - ၉၈ ရက် |
| ၁၇။ | **သက်ဆိုင်ရာ ဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်အကျဉ်းချုပ်** | | | |
| | ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ | အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍၂၀၁၄ခုနှစ် ဇွန်လ ၂၆ ရက်နေ့တွင် ကျင်းပပြုလုပ် သည့် ရန်ကုန်တိုင်း ဒေသ ကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၂၄/၂၀၁၄ ဆုံးဖြတ်ချက် အပိုဒ်(၃၇)အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘော ထားပြန်ကြား ထားပါသည်။ | အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍၂၀၁၄ခုနှစ် ဇွန်လ ၂၆ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၂၄/၂၀၁၄ ဆုံးဖြတ်ချက်အပိုဒ်(၃၆)အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထား ပါသည်။ | - အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍၂၀၁၄ခုနှစ် ဇွန်လ ၁၉ ရက်နေ့တွင် ကျင်းပပြုလုပ် သည့် ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၂၃/၂၀၁၄ ဆုံးဖြတ်ချက် အပိုဒ်(၄၂)အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။ |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာန | - ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP)ရေးဆွဲတင်ပြရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ **ကုမ္ပဏီမှလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါ သည်။** | - ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP)ရေးဆွဲတင်ပြရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ စည်းမျဉ်း စည်းကမ်းများ နှင့်အညီ **ကုမ္ပဏီမှ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါ သည်။** | - ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲ တင်ပြရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ စည်းမျဉ်း စည်းကမ်းများ နှင့်အညီ **ကုမ္ပဏီမှလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါ သည်။** |
| | စက်မှုဝန်ကြီးဌာန | - စက်မှုဝန်ကြီးဌာန၏လိုအပ်ချက်များကို မှတ်ချက်ပြု ထားခြင်း အပေါ် **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင် ပြီးဖြစ်၍ စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** | - စက်မှုဝန်ကြီးဌာနမှ လိုအပ်ချက်များကို မှတ်ချက်ပြုထားခြင်း အပေါ် **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်ပြီးဖြစ်၍ စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** | - စက်မှုဝန်ကြီးဌာနမှ လိုအပ်ချက်များကို မှတ်ချက်ပြု ထားခြင်း အပေါ် **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင် ပြီးဖြစ်၍ စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** |
| | CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ | - CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ ၏လိုအပ်ချက်များကို မှတ်ချက်ပြု ထားခြင်း အပေါ် **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင် ပြီးဖြစ်၍ စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** | - CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ ၏လိုအပ်ချက် များကို မှတ်ချက်ပြု ထားခြင်း အပေါ် **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင် ပြီးဖြစ်၍ စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** | - CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ ၏လိုအပ်ချက် များကို မှတ်ချက်ပြု ထားခြင်း အပေါ် **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင် ပြီးဖြစ်၍ စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** |
| ၁၈။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေး ကြိုတင်ကာကွယ်ရေးအတွက် ရေဂါလံ ၅၀,၀၀၀ ခန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည် ဖြစ်ပါကြောင်း၊ ရေပုံး၊ မီးချိတ်၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဆေးဘူးများကို အဆင်သင့် ထားရှိမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေး ပေါ် ကာကွယ်ရန် မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြား ပေးမည် ဖြစ်ပါ ကြောင်း၊ ဆေးလိပ် သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားရှိခြင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ | မီးဘေး ကြိုတင်ကာကွယ်ရေးအတွက် ရေဂါလံ ၅၀,၀၀၀ ခန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည် ဖြစ်ပါကြောင်း၊ ရေပုံး၊ မီးချိတ်၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဆေးဘူးများကို အဆင်သင့် ထားရှိမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေး ပေါ် ကာကွယ်ရန် မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြား ပေးမည် ဖြစ်ပါ ကြောင်း၊ ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားရှိခြင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါ သည်။ | မီးဘေးကြိုတင် ကာကွယ်ရေး အနေဖြင့် မီးသတ်ဆေးဘူးများ လုံလောက်စွာစီမံထားရှိခြင်း၊ ဝန်ထမ်းများအား မီးဘေးကာကွယ်ရေး သင်တန်းများအား စေလွှတ်တက်ရောက်စေခြင်း၊ ဆေးလိပ် သောက်သုံး သည့်နေရာများ သတ်မှတ်ထားရှိခြင်း၊ အရေးပေါ် လွတ်မြောက်နိုင်သော ထွက်ပေါက်များ၊ စက်လိုက်များအတွင်း မီးသတ်ဆေးဘူးများထားရှိခြင်း၊ မီးသတ်ဦးစီးဌာနမှ သတ်မှတ်ထားသောစည်းမျဉ်း၊ စည်းကမ်းများ အတိုင်းလိုက်နာ ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |